အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Bay Limited မှ ပုစွန်၊ ဂဏန်းကဲ့သို့ အခွံမာရေနေသတ္တဝါများ၊ ခရုများနှင့် ငါးများတန်ဖိုးမြှင့် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Golden Bay Limited |
| | ကမကထပြုသူ | - ဦးမျိုးညွန့် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>Golden Fresh Sdn Bhd (မလေးရှား) ၈၀%<br>General Food Technology Industry Co., Ltd (မြန်မာ) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - ပုစွန်၊ ဂဏန်းကဲ့သို့ အခွံမာရေနေသတ္တဝါများ၊ ခရုများနှင့် ငါးများ တန်ဖိုးမြှင့် ထုတ်လုပ်ခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေတိုင်း ရပ်ကွက်အမှတ်-၂/၂၊ ငါးလုပ်ငန်းဦးစီးဌာနဝင်း၊ ဘုရင့်နောင် လမ်းမကြီး၊ အနောက်ကြို့ကုန်း၊ အင်းစိန် မြို့နယ်၊ ရန်ကုန်တိုင်း ဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာနပိုင် |
| ၄။ | မြေအကျယ်အဝန်း | - ၁.၅၂ ဧက (၆,၁၅၁.၂၂ စတုရန်းမီတာ) |
| ၅။ | မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၆၁,၅၁၂.၀၀<br>(တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၁၀ နှုန်း) |
| ၆။ | လုပ်ငန်းသက်တမ်း | - ကနဦး ၁၀ နှစ် |
| ၇။ | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၈။ | စုစုပေါင်းမတည်ငွေရင်း<br>ထည့်ဝင်သည့်အမျိုးအစား | - US$ ၁.၀၀၀ သန်း |

| စဉ် | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၈၀၀ | | ၀.၈၀၀ |
| (ခ) | စက်ပစ္စည်း | | ၀.၀၄၀ | ၀.၀၄၀ |
| (ဂ) | စက်ရုံသုံးပစ္စည်း | | ၀.၁၀၂ | ၀.၁၀၂ |
| (ဃ) | ရုံးသုံးပစ္စည်းများ | | ၀.၀၂၄ | ၀.၀၂၄ |
| (င) | အဆောက်အဦ တန်ဖိုး | | ၀.၀၃၄ | ၀.၀၃၄ |
| | စုစုပေါင်း | ၀.၈၀၀ | ၀.၂၀၀ | ၁.၀၀၀ |

| | | |
|---|---|---|
| ၉။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း<br><br>ပြည်ပ | - ၂၆၃ ဦး<br>- ၂၅၇ ဦး(ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀)<br>- ၆ ဦး( ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၂၅၀ နှင့် အမြင့်ဆုံးလစာ US$ ၂,၀၀၀) |
| ၁၀။ | နှစ်စဉ်ထုတ်လုပ်မည့်ပစ္စည်း<br>(၄ နှစ်မြောက်) | စဉ် ပစ္စည်းအမျိုးအစား အရေအတွက် (M.Ton) ရောင်းချမည့်ဈေးနှုန်း (US$/M.Ton)<br>(၁) Pink (Prawn) ၂၅၀ ၁၀,၀၀၀<br>(၂) Sea Tiger (Prawn) ၂၅၀ ၂၆,၀၀၀<br>(၃) Panko Prawn(CPC) ၅၀၀ ၆,၀၀၀<br>(၄) CPP ၁၄၀ ၉,၀၀၀<br>(၅) Prawn (Tempura) ၂၄၀ ၇,၀၀၀<br>(၆) Fish (Tempura) ၁,၂၀၀ ၂,၄၀၀<br>(၇) Others ၁၀၀ ၁၆,၀၀၀ |
| ၁၁။ | လျှပ်စစ်ဓါတ်အားလိုအပ်ချက်<br>(နှစ်စဉ်) | - ၁၂၆၉၂၄ kWh |
| ၁၂။ | အခြားတင်ပြချက် | - Golden Bay Limited ၏ MOA, AOA အား တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူးလက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- Golden Fresh Sdn Bhd နှင့် General Food Technology Industry Co., Ltd. တို့ ချုပ်ဆိုထားသော ဖက်စပ်စာချုပ်(မူကြမ်း) တင်ပြထားပါသည်။<br>ငါးလုပ်ငန်းဦးစီးဌာနနှင့် Golden Bay Limited ၏ ဒါရိုက်တာ အဖွဲ့ဝင် ဦးမျိုးညွန့်တို့ ချုပ်ဆိုထားသော B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်ထားသည့် ပြင်ဆင်ချက် သဘောတူစာချုပ် မိတ္တူ တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - ငါးလုပ်ငန်းဦးစီးဌာနနှင့် General Food Technology Industry Co., Ltd. ၊ Golden Bay Limited တို့အကြား ချုပ်ဆိုမည့် BOT စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (၂)ရပ်အပေါ် ပြည်ထောင်စု ရှေ့နေချုပ်ရုံး၏ သဘောထား ပြန်ကြားစာတို့ကို တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ General Food Technology Industry Co.,Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူကို တင်ပြထားပါသည်။<br>- General Food Technology Industry Co.,Ltd. ၏ ၂၀၁၄-၂၀၁၅ ဘဏ္ဍာရေးနှစ်အတွက် စာရင်းစစ်အစီရင်ခံစာ တင်ပြထားပါသည်။<br>- General Food Technology Industry Co.,Ltd မှ ၂၀၁၅-၂၀၁၆ ဘဏ္ဍာရေးနှစ်အထိ အခွန်ပေးဆောင်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။<br>- မလေးရှားနိုင်ငံရှိ UOB Bank တွင် Golden Fresh Sdn Bhd သည် ၃၁-၁၂-၂၀၁၅ ရက်နေ့အထိ US$ ၁,၈၄၃,၉၀၄.၇၄ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ CB Bank တွင် General Food Technology Industry Co., Ltd သည် ၃၀-၄-၂၀၁၇ ရက်စွဲဖြင့် ကျပ် ၁၁၀,၈၄၄,၅၃၆.၈၀ ရှိကြောင်း ငွေကြေး အထောက်အထား တင်ပြထားပါသည်။ |
| ၁၃။ | စိစစ်တင်ပြချက် | - ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၆ (ဃ)အရ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် မြေအားငှားရမ်းဆောင်ရွက်မည်ဖြစ်၍ ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။ |

| | | |
|---|---|---|
| | | - မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ရင်းနှီးမြှုပ်နှံမှုမြှင့်တင်မည့် ကဏ္ဍစာရင်းတွင် ပါဝင်ပါသည်။ အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၃)တွင် ပါဝင်ပါသည်။ ကုမ္ပဏီမှ မြေအသုံးပြုခွင့်နှင့် အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြထားပြီး ဝင်ငွေခွန် (၃)နှစ်ခံစားနိုင်မည် ဖြစ်ပါသည်။<br>- ကော်မရှင် ခွင့်ပြုမိန့် ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ ခ-၀၀၅/၂၀၁၇( ၅၁၈ ၈ ၃)

ရက်စွဲ ၊ ၂၀၁၇ ခုနှစ် ဇူလိုင်လ ၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Bay Limited မှ ပုစွန်၊ ဂဏန်းကဲ့သို့ အခွံမာရေနေသတ္တဝါများ၊ ခရုများနှင့်ငါးများ တန်ဖိုးမြှင့် ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မလေးရှားနိုင်ငံ Golden Fresh Sdn Bhd မှ ၈၀ %၊ မြန်မာနိုင်ငံ General Food Technology Industry Co., Ltd. မှ ၂၀ % အစုရှယ်ယာများ ထည့်ဝင်၍ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Golden Bay Limited တည်ထောင်ကာ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင်၊ မြေတိုင်းရပ်ကွက်အမှတ်-၂/၂၊ ငါးလုပ်ငန်းဦးစီးဌာနဝင်း၊ အနောက်ကြို့ကုန်း၊ အင်းစိန်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး ရှိ ၃.၅၆ ဧက အနက်မှ ၁.၅၂ ဧက (၆,၁၅၁.၂၂ စတုရန်းမီတာ) ကို BOT စနစ်ဖြင့် ငှားရမ်း၍ ပုစွန်၊ ဂဏန်းကဲ့သို့ အခွံမာရေနေ သတ္တဝါများ၊ ခရုများနှင့် ငါးများတန်ဖိုးမြှင့် ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာခြင်းကို ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁ ရက် နေ့တွင် ကျင်းပသော (၂၈/၂၀၁၆) ကြိမ်မြောက် အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးမှ မြေငှားရမ်းမှုနှင့် ပတ်သက်၍ နိုင်ငံခြားနှင့် ဖက်စပ်ကုမ္ပဏီဖြစ်သည့် Golden Bay Limited အနေဖြင့် အစိုးရ ဌာနပိုင်မြေတွင် ငှားရမ်းဆောင်ရွက်မည် ဖြစ်သဖြင့် နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ အခန်း(၁၅)၊ အပိုဒ် ၁၀၁ အရ အစိုးရအဖွဲ့၏ ကြိုတင်အတည်ပြုချက် ရယူရန်၊ ဖက်စပ် စာချုပ် (မူကြမ်း) ပြင်ဆင်တင်ပြရန်နှင့် ပြည်တွင်းဝန်ထမ်းလစာနှုန်းအား မြန်မာကျပ်ငွေဖြင့် တွက်ချက် တင်ပြရန် ဆုံးဖြတ်ချက်အား သက်ဆိုင်ရာ ကုမ္ပဏီသို့ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၉ ရက် နေ့တွင် ကော်မရှင်မှ အကြောင်းကြားခဲ့ပါသည်။

၂။ ကုမ္ပဏီအနေဖြင့် အစည်းအဝေးဆုံးဖြတ်ချက်များအား ပြင်ဆင်တင်ပြလာမှု မရှိခြင်းနှင့် အဆိုပြုလွှာမှာ ရက်ပေါင်း ၉၀ ကျော်လွန်နေခြင်းတို့ကြောင့် အဆိုပြုလွှာအား ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၁ ရက်နေ့တွင် ပြန်လည်ပေးပို့ခဲ့ပါသည်။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီး ဌာန၏ ၂၀၁၇ ခုနှစ် မေလ ၁၈ ရက်စွဲပါ စာအမှတ်၊ ၃/၃၀၀၀/မွေးရေကျေး (၅၃၈/၂၀၁၇)

ဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်းသဘောတူစာချုပ်ကို ပြင်ဆင်သည့် ပြင်ဆင်ချက် သဘောတူစာချုပ်နှင့် ပြည်ထောင်စု အစိုးရအဖွဲ့ အစည်းအဝေး ဆုံးဖြတ်ချက်တို့အား ပူးတွဲ၍ အဆိုပြုလွှာအသစ် ပြန်လည် ပြင်ဆင် တင်ပြလာပါသဖြင့် အမှာစာအား တင်ပြခြင်းဖြစ်ပါသည်။

၃။ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တင်ပြစာတွင် Golden Bay Limited အမည်ဖြင့် မြေ (၁.၅၂)ဧက (၆၁၅၁.၂ စတုရန်းမီတာ)အား တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ (၁၀)နှုန်းဖြင့် ကနဦး (၁၀)နှစ် ငှားရမ်းခွင့်အား ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်နှင့်အညီ Golden Bay Limited နှင့် ချုပ်ဆိုမည့် မြေငှားရမ်းခြင်း ပြင်ဆင်ချက် သဘောတူစာချုပ် (အင်္ဂလိပ်+မြန်မာ)နှင့် ပြည်တွင်းဝန်ထမ်း လစာနှုန်းအား မြန်မာကျပ်ငွေဖြင့် တွက်ချက်ထားမှု အခြေအနေအား ပြုစုပြီး စီးပွားရေးရာကော်မတီသို့ တင်ပြခဲ့ရာ ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့ ဆက်လက်တင်ပြရန် ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ ပြည်ထောင်စုအစိုးရအဖွဲ့သို့ ဆက်လက် တင်ပြခဲ့ရာ General Food Technology Industry Co., Ltd. နှင့် Golden Fresh Sdn Bhd တို့ အကျိုးတူပူးပေါင်း၍ ဖက်စပ် ကုမ္ပဏီ အနေဖြင့် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာန၏ မြေငှားရမ်းခွင့်အား ၂၀၁၇ ခုနှစ် ဧပြီလ ၂၇ ရက် (ကြာသပတေး)နေ့တွင် ကျင်းပပြုလုပ်သော ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၇)မှ ခွင့်ပြုခဲ့ပြီးဖြစ်ပါကြောင်း တင်ပြထားပါသည်။ သက်ဆိုင်ရာ တိုင်းဒေသကြီး နှင့် ဝန်ကြီးဌာနများမှလည်း သဘောထားမှတ်ချက်များ ရရှိပြီးဖြစ်ပါသည်။

၄။ ငါးလုပ်ငန်းဦးစီးဌာနနှင့် Golden Bay Limited ၏ ဒါရိုက်တာ အဖွဲ့ဝင် ဦးမျိုးညွှန့်တို့ ချုပ်ဆိုထားသော B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်ကို ပြင်ဆင်ထားသည့် ပြင်ဆင်ချက် သဘောတူစာချုပ် မိတ္တူ တင်ပြထားပါသည်။ ငါးလုပ်ငန်းဦးစီးဌာနနှင့် General Food Technology Industry Co., Ltd၊ Golden Bay Limited တို့အကြား ချုပ်ဆိုမည့် B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) ၂ ရပ် အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။

၅။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၁၀ နှစ်နှင့် ၅ နှစ် (၂)ကြိမ် သက်တမ်းတိုးမည်ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၆။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ အမေရိကန်ဒေါ်လာ ၁.၀၀ သန်း ဖြစ်၍ အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| | | ပြည်ပ (US$/သန်း) | ပြည်တွင်း (US$/သန်း) | စုစုပေါင်း (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၀.၈၀၀ | | ၀.၈၀၀ |
| (ခ) | စက်ပစ္စည်း | | ၀.၀၄၀ | ၀.၀၄၀ |
| (ဂ) | စက်ရုံသုံးပစ္စည်း | | ၀.၁၀၂ | ၀.၁၀၂ |
| (ဃ) | ရုံးသုံးပစ္စည်းများ | | ၀.၀၂၄ | ၀.၀၂၄ |
| (င) | အဆောက်အဦတန်ဖိုး | | ၀.၀၃၄ | ၀.၀၃၄ |
| | **စုစုပေါင်း** | ၀.၈၀၀ | ၀.၂၀၀ | ၁.၀၀၀ |

ငွေလဲလှယ်နှုန်းအနေဖြင့် အမေရိကန် တစ်ဒေါ်လာလျှင် ကျပ် ၁၀၀၀ ဖြင့် ဖော်ပြထားပါသည်။

၇။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၂၅၇ ဦးနှင့် ပြည်ပဝန်ထမ်း ဦးရေ ၆ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း တစ်ဦး၏ အနိမ့်ဆုံးလစာ ကျပ် ၁၂၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၂၅၀ နှင့် အမြင့်ဆုံး လစာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၈။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ ၁၀၀% တင်ပို့ ရောင်းချ မည် ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (စတုတ္ထမြောက်နှစ်)ရှိ ပြည်ပထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | ပစ္စည်းအမျိုးအစား | အရေအတွက် (M.Ton) | ရောင်းချမည့်ဈေးနှုန်း (US$/M.Ton) |
|---|---|---|---|
| (က) | Pink (Prawn) | ၂၅၀ | ၁၀,၀၀၀ |
| (ခ) | Sea Tiger (Prawn) | ၂၅၀ | ၂၆,၀၀၀ |
| (ဂ) | Panko Prawn(CPC) | ၅၀၀ | ၆,၀၀၀ |
| (ဃ) | CPP | ၁၄၀ | ၉,၀၀၀ |
| (င) | Prawn (Tempura) | ၂၄၀ | ၇,၀၀၀ |
| (စ) | Fish (Tempura) | ၁,၂၀၀ | ၂,၄၀၀ |
| (ဆ) | Others | ၁၀၀ | ၁၆,၀၀၀ |

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထား ပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ စိုက်ပျိုးရေး၊မွေးမြူရေးနှင့် ဆည်မြောင်း ဝန်ကြီးဌာနမှတစ်ဆင့် လျှောက်ထားလာမှုအပေါ် ကန့်ကွက်ရန်မရှိပါကြောင်း သဘောထား ပြန်ကြားလာပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြီး လုပ်ငန်းဆောင်ရွက်ရာ တွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန် နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ အကျိုးပြု လုပ်ငန်းများ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ ၂% အား အသုံးပြုသွားရန်အပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ လုပ်ငန်းများ ဆောင်ရွက်မှုကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) အား ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲ တင်ပြရန်နှင့် ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး(ထုတ်လွှတ်မှု) လမ်းညွှန်ချက် များနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက်

သက်ဆိုင်ရာဌာနများ၏စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ၎င်းအစီအမံ အတွက် အသားတင်အမြတ်ငွေ၏ ၁% သုံးစွဲရန် လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှု လုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ် ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၀။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မလေးရှားနိုင်ငံရှိ UOB Bank တွင် Golden Fresh Sdn Bhd သည် ၃၁-၁၂-၂၀၁၅ ရက်နေ့တွင် US$ ၁,၈၄၃,၉၀၄.၇၄ ရှိကြောင်းငွေကြေး အထောက်အထား တင်ပြထားပါသည်။ မြန်မာနိုင်ငံရှိ CB Bank တွင် General Food Technology Industry Co., Ltd သည် ၃၀-၄-၂၀၁၇ ရက်နေ့အထိ ကျပ် ၁၁၀,၈၄၄,၅၃၆.၈၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။

၁၁။ Golden Bay Limited မှ မီးဘောကြိုတင် ကာကွယ်ရေး စီမံချက်၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိ ဝန်ခံချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၂။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၀/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၃။ **စိစစ်တင်ပြချက်**

(က) ရင်းနှီး မြှုပ်နှံမှုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၆ (ဃ)အရ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်း ဦးစီးဌာနပိုင် မြေအား ငှားရမ်းဆောင်ရွက်မည်ဖြစ်၍ ကော်မရှင်ခွင့်ပြုမိန့် ရယူရန် လိုအပ်သည့် ရင်းနှီးမြှုပ်နှံမှုလုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

(ခ) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ရင်းနှီးမြှုပ်နှံမှုမြှင့်တင်မည့် ကဏ္ဍစာရင်းတွင်ပါဝင်ပါသည်။ အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဇုန်(၃)တွင် ပါဝင်ပါသည်။ ကုမ္ပဏီမှ မြေအသုံးပြုခွင့်နှင့် အခွန်ကင်းလွတ်ခွင့် သက်သာခွင့် လျှောက်ထားလွှာ ပူးတွဲတင်ပြထားပြီး ဝင်ငွေခွန် (၃)နှစ်ခံစားနိုင်မည်ဖြစ်ပါသည်။

(ဂ) ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက သက်ဆိုင်ရာလုပ်ငန်းလိုင်စင်များ လျှောက်ထားရန် လိုအပ်ပါသည်။

(ဃ) စက်ပစ္စည်း US$ ၂၅၀,၀၀၀ တန်ဖိုးအား နိုင်ငံခြားမှတင်သွင်းမည်ဖြစ်ပြီး Golden Fresh Sdn Bhd. မှ ရင်းနှီးထည့်ဝင်သည့် ငွေသား US$ ၈၀၀,၀၀၀ မှ ကျခံသုံးစွဲမည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၄။ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Golden Bay Limited တည်ထောင်၍ ပုစွန်၊ ဂဏန်းကဲ့သို့ အခွံမာရေနေ သတ္တဝါများ၊ ခရုများနှင့်ငါးများ တန်ဖိုးမြှင့်ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ- မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

## Golden Bay Limited ၏
## ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာ စာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Golden Bay Limited | (a) Mr. Saw Hai Earn<br>Malaysian<br>PP.N0: A 24636002<br>Director | 6 Jalan Ahmad Bin Kasa<br>Hillside, 11200 Penang,<br>Malaysia |
| | | (b) Mr. Saw Lip Teik<br>Malaysian<br>PP.No: A 20987515<br>Director | 1-8-1 Horizon Towers TanJung<br>Bungah Park 11200 Tanjung<br>Bungah, Penang, Malaysia |
| | | (c) Mr. Ng Geok Bee<br>Malaysian<br>PP.No: A 24149901<br>Director | 76 Lorong Kurau 1 Taman<br>Chai Leng 13700 Seberang<br>Perai, Penang, Malaysia |
| | | (d) Mr. Chong Chee Wai<br>Malaysian<br>PP.No: A 21246806<br>Director | 4 Lorong Bukit Minyak 10<br>Taman Bukit Minyak 14000<br>Bukit Mertajam, Penang,<br>Malaysia |
| | | (e) U Myo Nyunt<br>Myanmar<br>12/Ba Ha Na(N)073921<br>Director | No.(36), Inya Myaing Road,<br>Shwe Taung Kyar (1) Ward,<br>Bahan Township, Yangon |

| | | | |
|---|---|---|---|
| | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ | - ၀၉-၅၁၇၁၆၆၇ | |
| ၁။ | ဖက်စ်နံပါတ် | | |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးမျိုးညွန့် | |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - တန်ဖိုးမြင့် အေးခဲငါးနှင့် ပုစွန်ထုတ်ကုန်များ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း | |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |

နောက်ဆက်တွဲ-က

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**တိုင်းဒေသကြီးအစိုးရအဖွဲ့**
**ရန်ကုန်တိုင်းဒေသကြီး**

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ စက်တင်ဘာလ ၁၂ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၉. ၈. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၂/၂၀၁၆(၅၉၉)

၁။ မြန်မာနိုင်ငံ General Food Technology Industry Co., Ltd. မှ ၂၀%၊ မလေးရှားနိုင်ငံ Golden Fresh Sdn Bhd. မှ ၈၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Bay Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ငါးလုပ်ငန်းဦးစီးဌာနဝင်း၊ မြေတိုင်းရပ်ကွက်အမှတ်-၂/၂ ရှိ စုစုပေါင်းမြေအကျယ်အဝန်း ၃. ၅၆ ဧကအနက်မှ ၁. ၅၂ ဧက(၆၁၅၁. ၂၂ စတုရန်းမီတာ)ကို ငှားရမ်းကာ တန်ဖိုးမြှင့် အေးခဲငါးနှင့်ပုစွန် ထုတ်ကုန်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှတစ်ဆင့် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(မြင့်သောင်း၊ တိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး)

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အင်းစိန်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Golden Bay Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Lesson(MIC)..(63)

နောက်ဆက်တွဲ- ခ

၅၃၉, 256/11/8

(ရင်းနှီးမြှုပ်နှံမှုဥပဒေနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့ ရန်ကုန်မြို့ စာအမှတ် ရက်စွဲ)

ရင်းနှီးမြှုပ်နှံမှုဥဒ္ဓာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁( ၂၀၀ /၁၆ )
ရက် စွဲ ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **Golden Bay Limited မှ တန်ဖိုးမြှင့် အေးခဲ ငါးနှင့် ပုစွန်ထုတ်ကုန်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၈-၂၀၁၆ ရက်စွဲပါစာအမှတ်၊ မရက-၂/ န-၁၅၂/ ၂၀၁၆(၅၉၀)

၁။ မြန်မာနိုင်ငံ General Food Technology Industry Co., Ltd. မှ ၂၀%၊ မလေးရှားနိုင်ငံ Golden Fresh Sdn Bhd. မှ ၈၀% ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Golden Bay Limited တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ငါးလုပ်ငန်းဦးစီးဝင်း၊ မြေတိုင်းရပ်ကွက်အမှတ်-၂/၂ ရှိ စုစုပေါင်းမြေအကျယ်အဝန်း ၃.၅၆ ဧက အနက်မှ ၁.၅၂ ဧက (၆၁၅၁.၂၂ စတုရန်းမီတာ)ကို ငှားရမ်းကာ တန်ဖိုးမြှင့်အေးခဲ ငါးနှင့် ပုစွန်ထုတ်ကုန်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ စီစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ (၂၀) နှစ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလမှာ (၁)နှစ်ဖြစ်ကြောင်း၊ အေးခဲငါး ပုစွန်ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် ၈၁၅ မက်ထရစ်တန်မှ (၆)နှစ်မြောက်တွင် ၃၂၀၀ မက်ထရစ်တန်အထိ တိုးမြှင့်ထုတ်လုပ်သွားမည်ဖြစ်ကြောင်း၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာနမှ လက်ရှိလုပ်ကိုင်နေသောလုပ်ငန်းများအတွက် ၂၀၀၉ ခုနှစ်တွင် ပုဂ္ဂလိကစက်မှုလုပ်ငန်းမှတ်ပုံတင် ထုတ်ပေးထားပါကြောင်း၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအမံ၊ မီးဘေးကာကွယ်ရေးစီမံချက်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏

(၂%)ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility - CSR ) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနမှ ထုတ်ပြန်ထားသော စည်းမျဉ်း၊ စည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ Golden Bay Limited မှ တန်ဖိုးမြှင့် အေးခဲ ငါးနှင့် ပုစွန်ထုတ်လုပ်ခြင်းလုပ်ငန်းများဆောင်ရွက်ရာတွင် Processing Washing & Peeling Room များတွင် ရေများကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်ရာ အဆိုပါစွန့်ပစ်ရေများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ စက်ရုံမှထွက်ရှိလာမည့် ငါး၊ ပုစွန် အစရှိသည့် အခွံအစအနများကို စနစ်တကျစွန့်ပစ်ခြင်းမပြုပါကပတ်ဝန်းကျင်မြေထု၊ လေထုနှင့် ရေထုညစ်ညမ်းခြင်း၊ ငါး၊ ပုစွန်တို့ကို သိုလှောင်ခြင်း၊ ပြုပြင်ထုတ်လုပ်ခြင်းများမှ ထွက်ရှိလာမည့်အနံ့အသက်ဆိုးများကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူလူထုအား အနှောက်အယှက်ဖြစ်စေခြင်း၊ အအေးခန်းစက်ရုံများမှ ထွက်ရှိလာမည့် Green House Gas - GHG များကြောင့် ပတ်ဝန်းကျင်လေထုအပေါ် သက်ရောက်စေနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Golden Bay Limited မှ တန်ဖိုးမြှင့် အေးခဲ ငါးနှင့် ပုစွန်ထုတ်ကုန်များထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍အောက်ပါအတိုင်းသဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR ) အတွက် အသားတင်အမြတ်ငွေ၏ (၂%) အားအသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

( ခ ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး

(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Management Plan – EMP ) အား ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာ ရေးသားတင်ပြရန်။

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်။

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

MIC, 2415
2418

နောက်ဆက်တွဲ-ဂ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၁၃-စမ(၂) ၂၀၁၆-၂၀၁၇(၁၂၉၄)
ရက် စွဲ၊ ၂၀၁၆ ခုနှစ်၊ ဩဂုတ်လ ၂၂ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၉.၈.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ မရက-၂/ န-၁၅၂ / ၂၀၁၆ (၆၀၀)

၁။ Golden Bay Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်း၊ ငါးလုပ်ငန်းဦးစီးဝင်း၊ မြေတိုင်းရပ်ကွက်အမှတ် (၂/၂) တွင် တန်ဖိုးမြှင့်အေးခဲ ငါးနှင့် ပုစွန်ထုတ်ကုန်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး တန်ဖိုးမြှင့်အေးခဲ ငါးနှင့် ပုစွန်ထုတ်ကုန်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၏ တည်ဆဲငါးလုပ်ငန်းဆိုင်ရာ ဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်နှင့် ငှင်းအစီအမံအတွက် အသားတင်အမြတ်ငွေ၏ ၁ % သုံးစွဲရန် လိုအပ်ပါသည်။

(င) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Golden Bay Limited မှ တန်ဖိုးမြှင့်အေးခဲ ငါးနှင့် ပုဇွန်ထုတ်ကုန်များ ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်သွားမည်ဆိုပါက ဤဝန်ကြီးဌာနအနေဖြင့် **ကန့်ကွက်ရန်မရှိပါကြောင်း** ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(ကိုကိုလွင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန